**ကုမ္ပဏီအမည်** - ရွှေမိုးယံ ကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited)

**လုပ်ငန်း** - ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရွှေစင်သတ္တုများ ရှာဖွေတူးဖော် ထုတ်လုပ်ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | သတ္တုတွင်းဝန်ကြီးဌာနမှ အဆိုပြုလွှာတင်ပြခြင်း။ | ၂၁-၉-၂၀၁၅ | | ၂၈-၉-၂၀၁၅တွင် လက်ခံ ရရှိပါသည်။ |
| ၂။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၆/၂၀၁၅) သို့ တင်ပြခြင်း။ | ၅-၁၀-၂၀၁၅ | | |
| ၃။ | အဆိုပြုချက် လက်ခံကြောင်းနှင့် ဆုံးဖြတ်ချက်အား ပြန်ကြားခြင်း။ | ၁၅-၁၀-၂၀၁၅ | | |
| ၄။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၇-၁၀-၂၀၁၅ | | |
| | ထပ်မံပို့ | ၄-၁၁-၂၀၁၅ | | |
| | ထပ်မံပို့ | ၂-၁၂-၂၀၁၅ | ၁၃-၁၂-၂၀၁၅ | ၁၆-၁၂-၂၀၁၅ တွင် လက်ခံ ရရှိပါသည်။ |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁-၁၀-၂၀၁၅ | ၁၃-၁၀-၂၀၁၅ | |
| ၅။ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | | | **သတ္တုတွင်းဝန်ကြီးဌာနမှ တင်ဒါအောင်မြင်ထားပါသည်။** |
| ၆။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားစာ ပေးပို့ခြင်း၊ ကုမ္ပဏီမှ ပြန်လည်တင်ပြခြင်း | ၂၃-၁၀-၂၀၁၅ | ၁၈-၁၁-၂၀၁၅ | |
| ၇။ | ကွင်းဆင်း စစ်ဆေးခြင်း။ | ၁၉-၁၁-၂၀၁၅ | ၂၀-၁၁-၂၀၁၅ | |
| ၈။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန သို့ ကုမ္ပဏီမှ တင်ပြချက်အား ပေးပို့ခြင်း | ၂၀-၁၁-၂၀၁၅ | | |
| ၉။ | မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့ ၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန် သတ္တုတွင်း ဝန်ကြီးဌာန နှင့် ကုမ္ပဏီသို့ အကြောင်းကြားစာပေးပို့ခြင်း၊ ကုမ္ပဏီမှ ပြန်လည်တင်ပြ ခြင်း | ၁၆-၁၂-၂၀၁၅ | ၁၈-၁၂-၂၀၁၅ | |
| ၁၀။ | ကုမ္ပဏီမှလိုအပ်ချက် ပြင်ဆင်တင်ပြခြင်း | ၁၈-၁၂-၂၀၁၅ | | |
| ၁၁။ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၂၁-၁၂-၂၀၁၅ | | |
| ၁၂။ | **စုစုပေါင်း ကြာမြင့်ရက် ( ၈၅ )ရက်** | | | |

အကြောင်းအရာ။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited)တို့၏ ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် စနစ်ဖြင့်ရွှေစင်သတ္တုများ ရှာဖွေတူးဖော် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေမိုးယံ ကုမ္ပဏီလီမိတက်<br>(Shwe Moe Yan Company Limited) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဆောင်ညွှန်ကြားရေးမှူး အမှတ်(၂)သတ္တုတွင်းလုပ်ငန်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံသူအမည် | - ဒေါက်တာကျော်အောင်(အဘ-ဦးစန်းလွင်) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပုတ်ပြတ်စနစ်အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့်ရွှေစင်သတ္တုများရှာဖွေတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း |
| | လုပ်ငန်းတည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်း မြို့နယ်၊ မိုးထိမိုးမိ ဒေသ၊ ဝါးဖြူတောင် ရွှေလုပ်ကွက် လုပ်ကွက်(B) |
| | မြေအကျယ်အဝန်း | - ၇,၅၂၂.၅၉ ဧက |
| | မြေပိုင်ရှင် | - သတ္တုတွင်းဝန်ကြီးဌာနမှ တင်ဒါအောင်မြင်ထားပါသည်။ |
| | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၂၅ နှစ် (ပုတ်ပြတ်စနစ် ၈ နှစ်၊ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် ၁၇ နှစ်) |
| ၂။ | ပုံသေမြေ ငှားရမ်းခ (Dead Rent) | - ထူထောင်မှုကာလ (၃) နှစ် ၃.၆ သန်း<br>(တစ်စတုရန်း ကီလိုမီတာ)<br>- ထုတ်လုပ်မှုကာလ (၅) နှစ် ၆.၀ သန်း<br>(တစ်စတုရန်း ကီလိုမီတာ)<br>- ထုတ်လုပ်မှု အပေါ် (၁၇) နှစ်<br>ခွဲဝေခံစားသည့် စနစ် |
| ၃။ | ဘဏ်အာမခံငွေ | - ကျပ် သိန်း တစ်သောင်း |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၄,၉၄၇.၈၉ သန်း (US$ ၅.၈၇ သန်း အပါအဝင်) |
| | ထည့်ဝင်သည့် အမျိုးအစား | ကျပ် (သန်း) |
| | ငွေသား | ၁,၅၀၀.၀၀ |
| | စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်တွင်းဝယ်) | ၅,၃၄၁.၉၃ |
| | စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်ပဝယ်) | ၇,၀၄၃.၁၇ (US$ ၅.၈၇ သန်း) |
| | အဆောက်အဦတန်ဖိုး | ၁,၀၂၄.၅၀ |
| | ပရိဘောဂပစ္စည်းများတန်ဖိုး | ၃၈.၂၆ |
| | စုစုပေါင်း | **၁၄,၉၄၇.၈၆ (US$ ၅.၈၇ သန်း အပါအဝင်)** |
| ၅။ | ဝန်ထမ်းအင်အား | - ၂၉၆ ဦး |
| | ပြည်တွင်း | - ၂၉၃ ဦး အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၁၂၀,၀၀၀<br>အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာကျပ် ၆၀၀,၀၀၀<br>(ပြည်တွင်းဝန်ထမ်းများ၏လစာနှုန်းများကိုတစ်နှစ်လျှင် ၂% ခန့် တိုးမြှင့်ထုတ်ပေးသွားမည်ဖြစ်ပါသည်) |
| | ပြည်ပ | - ၃ ဦး ဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၂,၀၀၀ |

| | | | |
|---|---|---|---|
| ၆။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ % ရောင်းချခြင်း။ | |
| ၇။ | ထုတ်လုပ်မှုနှင့်ရောင်းချမည့်ဈေးနှုန်း(ဆဌမနှစ် ) | - **ထုတ်လုပ်မှုစုစုပေါင်း ကီလိုဂရမ်** | **ဈေးနှုန်း တစ်ကီလိုဂရမ်(ကျပ်)** |
| | | ၁,၀၂၆ | ၄၅,၅၀၀,၀၀၀ |
| | | **၆နှစ်မြောက် (ပုတ်ပြတ်ကာလ)** ကျပ်(သန်း) | **၁၀နှစ်မြောက် (PSC)ကာလ** ကျပ်(သန်း) |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ | - ၄၆,၆၈၃ | ၉၄,၅၉၅ |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ၃၁,၄၃၁ | ၃၉,၆၁၆ |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ၁၅,၂၅၂ | ၅၄,၉၇၉ |
| ၉။ | အရင်းကြေကာလ | - ၇ နှစ်၊ ၉လ | |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၀.၃ % | |
| ၁၁။ | **နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်** | **၆နှစ်မြောက် (ပုတ်ပြတ်ကာလ)** ကျပ်(သန်း) | **၁၀နှစ်မြောက် (PSC)ကာလ** ကျပ်(သန်း) |
| | ဝင်ငွေခွန် | ၅,၀၈၄ | ၁၈,၃၂၆ |
| | ကုန်သွယ်လုပ်ငန်းခွန် | ၂,၃၃၄ | ၄,၇၃၀ |
| | ဓါတ်သတ္တုခွန် အပါအဝင် သတာလ(၂)ဝေစု(၃၀%) ၈၉၁ကီလိုဂရမ် x ကျပ် ၄၅.၅(သန်း) | - | ၄၀,၅၄၁ |
| ၁၂။ | **လျှပ်စစ် ဓါတ်အား သုံးစွဲမှု (နှစ်စဉ်)** | - မိမိအစီအစဉ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ | |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်ရေးဆွဲ တင်ပြထားပါသည်။ | |
| ၁၄။ | သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိရန်ဆောင်ရွက်ထားရှိမှု အစီအစဉ် | - သဘာဝပတ်ဝန်းကျင်နှင့်လူနေမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်မှုများ (Environmental and Social Impact Assessment - ESIA)၊ သဘာဝပတ်ဝန်းကျင် ထိခိုက်နိုင်မှု အလား အလာများကြိုတင်တွက်ဆ ခန့်မှန်းခြင်း (Evaluating Potential and Predicted Environmental Impacts) နှင့် သဘာဝပတ်ဝန်ကျင်းစီမံခန့်ခွဲမှုဆိုင်ရာစီမံချက်များ (Environmental Management - EMP) အား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြ ထားပြီး ဖြစ်ပါသည်။ | |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေအပေါ် ၂%နှင့်ညီမျှသော ငွေကို ရန်ပုံငွေ လျာထား သုံးစွဲမည် ဖြစ်ပါသည်။ | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ရွှေမိုးယံ ကုမ္ပဏီ လီမိတက်<br>(Shwe Moe Yan Company Limited) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် |
| တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိ ဒေသ၊ ဝါးဖြူတောင်ရွှေလုပ်ကွက် လုပ်ကွက်(B)ဧရိယာ (၇.၅၂၂.၅၉)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၄,၉၄၇.၈၉ သန်း (US$ ၅.၈၇ သန်း အပါအဝင်) |
| ရင်နှီးမြှုပ်နှံမှု သက်တမ်း | - | ၂၅ နှစ် |
| | - | ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စနစ် (၁၇)နှစ် |
| | - | ပုတ်ပြတ်စနစ် (၈)နှစ် |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၂ |
| ၃ | သွန်းကုန်အခွန်ကင်းလွတ်ခွင့် | | ၃၅၂.၂ |
| ၄ | ဝင်ငွေခွန် | ၇,၀၃၅.၀ | ၄၂,၂၂၄.၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၁၅.၀ |
| ၆ | မြေငှားရမ်းခရငွေ | | ၁,၀၃၀.၀ |
| ၇ | CSR (၂%) | | ၂,၅၃၂.၀ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း၂၉၃ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| ၉ | စုစုပေါင်း | ၇,၀၃၈ | ၄၆,၄၅၄.၄ |
| | | ၁ : ၆ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(သ)/၀၀၇/၂၀၁၅ ( ၄၂၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံ ကုမ္ပဏီ လီမိတက် (Shwe Moe Yan Company Limited)တို့၏ ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရွှေစင်သတ္တုများ ရှာဖွေတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်း ကိစ္စ**

၁။ သတ္တုတွင်း ဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံ ကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited)တို့သည် မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိဒေသ၊ ဝါးဖြူတောင်ရွှေလုပ်ကွက် လုပ်ကွက်(B)ဧရိယာ ၈,၄၈၄.၅၉ ဧက (၃၄.၃၄စတုရန်း ကီလိုမီတာ)တွင် ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ရွှေစင် သတ္တုများ ရှာဖွေတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်း ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြ လာပါ သည်။

၂။ ယခင်အိုင်ဗင်ဟိုးကုမ္ပဏီမှ ရွှေသတ္တုစမ်းသပ် တိုင်းတာရေးလုပ်ငန်း ဆောင်ရွက်ခဲ့သော လုပ်ကွက် (A)နှင့် တစ်ဆက် တစ်စပ်တည်းရှိသည့် လုပ်ကွက်(B) ဧရိယာ ၈,၄၈၄.၅၉ ဧကအား ရွှေမိုးယံကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited)မှ ရွှေစင်ပုတ်ပြတ် (၅.၁၁၇) မက်ထရစ်တန်ဖြင့် ကုမ္ပဏီသို့လုပ်ကိုင်ခွင့်ပြုခြင်းကို (၂၀-၁၀-၂၀၁၁) ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ (၂၆/၂၀၁၁) ကြိမ်မြောက် အစည်းအဝေးမှ မှတ်တမ်းတင် ခွင့်ပြုခဲ့ပြီးဖြစ်ပါကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။ ထူထောင်မှုကာလအတွက် တစ်စတုရန်းကီလိုမီတာလျှင် ပုံသေမြေငှားရမ်းခ(Dead Rent) တစ်နှစ်အတွက် ကျပ် ၃.၆၀ သန်း နှုန်း၊ ထုတ်လုပ်မှုကာလအတွက် တစ်စတုရန်း ကီလိုမီတာလျှင် ပုံသေမြေ ငှားရမ်းခ (Dead Rent) အတွက် ကျပ် ၆.၀ သန်းနှုန်း ပေးဆောင်ရမည် ဖြစ်ပါသည်။

၃။ သက်တမ်းကာလမှာ ၂၅နှစ်ဖြစ်ပြီး၊ ပုတ်ပြတ်စနစ်ဖြင့် ၈နှစ် (၁၆-၉-၂၀၁၁ မှ ၁၅-၉-၂၀၁၉ထိ)၊ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ၁၇နှစ် (၁၆-၉-၂၀၁၉ မှ ၁၅-၉-၂၀၃၆ ထိ)ဖြစ်ပါသည်။ ကုမ္ပဏီမှ ဘဏ်အာမခံငွေအဖြစ် ကျပ်သိန်း တစ်သောင်း ထားရှိရမည်ဖြစ်ပြီး တည်ဆောက်ရေး ကာလ မှာ ၁နှစ်ခန့် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ US$ ၅.၈၇ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၄,၉၄၇.၈၉ သန်း ဖြစ်ပါသည်။ US$ ၅.၈၇ သန်းတန်ဖိုးရှိ စက်ပစ္စည်းကိရိယာများအား ပြည်ပမှာ တင်သွင်းမည် ဖြစ်ပြီး၊ စုစုပေါင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေသား | ၁,၅၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်တွင်းဝယ်) | ၅,၃၄၁.၉၃ |
| (ဂ) | စက်ပစ္စည်းကိရိယာများတန်ဖိုး (ပြည်ပဝယ်) | ၇,၀၄၃.၁၇ (US$ ၅.၈၇ သန်း) |
| (ဃ) | အဆောက်အဦတန်ဖိုး | ၁,၀၂၄.၅၀ |
| (င) | ပရိဘောဂပစ္စည်းများတန်ဖိုး | ၃၈.၂၆ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၁၄,၉၄၇.၈၆ (US$ ၅.၈၇ သန်းအပါအဝင်)** |

၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှဝန်ထမ်း၂၉၃ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပြီး ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၂၀,၀၀၀ ဖြစ်၍ အမြင့်ဆုံး လစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ နိုင်ငံခြားသားပညာရှင် (၃)ဦးအား ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂,၀၀၀ ဖြင့် ခန့်ထားမည် ဖြစ်ပါသည်။

၆။ အဆိုပြု လုပ်ငန်းမှ ထွက်ရှိသော ရွှေစင်များအား ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)ရှိ ကုမ္ပဏီ၏ ထုတ်လုပ်မှု၊ ရောင်းချမည့် ဈေးနှုန်းနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်ထောင်ပေါင်း)

| **အမျိုးအမည်** | **ထုတ်လုပ်မှု (ကီလိုဂရမ်)** | **တစ်ကီလိုဂရမ် ရောင်းဈေးနှုန်း** | **ဝင်ငွေ** |
|---|---|---|---|
| ရွှေစင်သတ္တု | ၁,၀၂၆ | ၄၅,၅၀၀ | ၄၆,၆၈၃,၀၀၀ |

၇။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက် (ပုတ်ပြတ်ကာလ)နှင့် ၁၀နှစ်မြောက် (PSC) ကာလတွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေ၊ အသုံးစရိတ်နှင့် အသားတင်အမြတ် တို့မှာ ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

ကျပ်(သန်း)

| | | **၆နှစ်မြောက် (ပုတ်ပြတ်ကာလ)** | **၁၀ နှစ်မြောက် (PSC) ကာလ** |
|---|---|---|---|
| (က) | ဝင်ငွေ | ၄၆,၆၈၃ | ၉၄,၅၉၅ |
| (ခ) | အသုံးစရိတ် | ၃၁,၄၃၁ | ၃၉,၆၀၆ |
| (ဂ) | အသားတင်အမြတ် | ၁၅,၂၅၂ | ၅၄,၉၇၉ |

ကန့်သတ်

၈။ အရင်းကြေ ကာလမှာ ၇ နှစ် နှင့် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) မှာ ၂၀.၃ ရာခိုင်နှုန်း ဖြစ်ပါသည်။ US$ တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်း ဖြင့် တွက်ချက် ထားပါသည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက် (ပုတ်ပြတ်ကာလ) နှင့် ၁၀ နှစ်မြောက် (PSC) ကာလတွင် နိုင်ငံတော်မှ ရရှိမည့် ဝင်ငွေခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန် တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | | ကျပ် (သန်း) |
|---|---|---|---|
| | | ၆နှစ်မြောက် (ပုတ်ပြတ်ကာလ) | ၁၀ နှစ်မြောက် (PSC) ကာလ |
| (က) | ဝင်ငွေခွန် | ၅,၀၈၄ | ၁၈,၃၂၆ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ၂,၃၃၄ | ၄,၃၃၀ |
| (ဂ) | ဓါတ်သတ္တုခွန် အပါအဝင် သတလ(၂)ဝေစု(၃၀%) ၈၉၁ကီလိုဂရမ် x ကျပ်၄၅.၅(သန်း) | - | ၄၀,၅၄၁ |

၁၀။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ထားသည့် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံ ကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited) တို့ချုပ်ဆိုထားသည့် ရွှေသတ္တုထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် လုပ်ငန်း သဘောတူစာချုပ်၊ ပြင်ဆင်ချက် သဘောတူစာချုပ်နှင့် ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်များနှင့် လုပ်ငန်းတည်နေရာပြ မြေပုံများကို ပူးတွဲ တင်ပြထားပါသည်။ စာချုပ်မူကြမ်းပါ အဓိက အချက် များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လုပ်ကွက် အဆိုပြုငွေ တန်ဖိုးငွေကျပ် (၁၅၀,၀၀၀,၀၀၀) (ကျပ်သန်း တစ်ရာ့ငါးဆယ်တိတိ)ကို လက်မှတ်ရေးထိုးသည့် နေ့မတိုင်မီ ပေးသွင်းရမည်။ **သဘောတူ စာချုပ် (အပိုဒ်- ၁၇)**

(ခ) ကန်ထရိုက်တာသည် စာချုပ်ပါ လုပ်ငန်းများ အကောင်အထည် ဖော်ရာတွင် နိုင်ငံတကာမှ လက်ခံကျင့်သုံးသည့် သတ္တုတူးဖော်ထုတ်လုပ်မှု နည်းပညာ အဆင့်အတန်းများနှင့် အညီအထိရောက်ဆုံး လုပ်ကိုင်ဆောင်ရွက်နိုင်ရန် နိုင်ငံတကာမှ အတတ်ပညာ၊ အရင်းအနှီး နှင့် စက်ပစ္စည်းများကို ဖိတ်ခေါ် ဆောင်ရွက်နိုင်ခွင့် ကိစ္စနှင့်ပတ်သက်၍ သတ္တုတွင်းဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည်။ **ပြင်ဆင်ချက် သဘောတူ စာချုပ်** (အပိုဒ် ၄)

(ဂ) သဘောတူစာချုပ်အရ ရွှေသတ္တုအကြီးစား တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း

ကန့်သတ်

အတွက်ခွင့်ပြုသည့်ကာလမှာ သက်တမ်း(၂၅)နှစ်ဖြစ်သည်။ သက်တမ်းတိုးမြှင့်ရန် လိုအပ်ပါက သတ်မှတ်ထားသော ခွင့်ပြုကာလမကုန်ဆုံးမီ (၆)လကြိုတင်၍ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသို့ တင်ပြရမည်။ အမှတ်(၂)သတ္တုတွင်း လုပ်ငန်းမှ သဘောတူလျှင် သက်တမ်း (၅)နှစ် တိုးမြှင့်နိုင်သည်။ **ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ်- ၅)**

(ဃ) ပုတ်ပြတ်စနစ်ဖြင့် ပေးသွင်းရမည့် (၈)နှစ် ပြီးဆုံးပြီးနောက် ကျန်ကာလ(၁၇)နှစ်တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ယင်းကာလ၌ပေးသွင်းရမည့်အချိုးကို ကန်ထရိုက်တာမှ အပြည့်အဝပေးသွင်းရမည်။ **ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် ၇)**

(င) ဓာတ်သတ္တုခွန်(၅%)အပါအဝင် ပေးသွင်းရမည့် ရွှေစင်သတ္တု (၉၉.၉၉%) ပါဝင်သော ရွှေစင်သတ္တု (၅.၁၁၇)မက်ထရစ်တန်အား ကနဦး သတ်မှတ် ခွင့်ပြုကာလ(၈)နှစ်အတွင်း ပုတ်ပြတ်စနစ်ဖြင့် အပြည့်အဝ ပေးသွင်းရမည်။ **ပြင်ဆင်ချက် သဘောတူစာချုပ်(အပိုဒ် ၆၊ အပိုဒ်ခွဲ - က)**

(စ) ကန်ထရိုက်တာမှ ပေးသွင်းရမည့် ဓာတ်သတ္တုခွန် ၅% ကို အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ တစ်ဆင့် နိုင်ငံတော်သို့ ပေးဆောင်ရမည်။ ကန်ထရိုက်တာသည် ပုံသေ မြေငှားရမ်းခ (Dead Rent)ကို မြန်မာ့သတ္တုတွင်း ဥပဒေ၊ နည်းဥပဒေပါ ပြဋ္ဌာန်းချက်များအရ သတ္တုတွင်းဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ကာလများအလိုက်နှုန်းထားများအတိုင်း သတ္တုတွင်းဦးစီးဌာနသို့ပေးဆောင်ရမည်။ **ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် ၉)**

**(ဆ)** စာချုပ်သက်တမ်း (၈)နှစ်ကို ပုတ်ပြတ်စနစ်ဖြင့် ဆောင်ရွက်မည် ဖြစ်သည်။ ကျန်ကာလ (၁၇)နှစ်တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် လစဉ်အချိုးကျ အမှတ်(၂) သတ္တုတွင်း လုပ်ငန်းမှ ဓာတ်သတ္တုခွန်အပါအဝင် (၃၀)% နှင့် ကန်ထရိုက်တာ မှ ၇၀% ခွဲဝေခံစား ရမည်။ **ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် ၁၀)**

(ဇ) သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး နှစ်ဦးနှစ်ဖက်မှ ပူးတွဲ စီမံခန့်ခွဲရေးကော်မတီ ကို ဖွဲ့စည်းရမည်။ ပူးတွဲ စီမံခန့်ခွဲရေး ကော်မတီတွင် အဖွဲ့ဝင်(၅) ဦးပါရှိရမည်ဖြစ်ပြီး၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းမှ (၃) ဦး နှင့် ကန်ထရိုက်တာမှ (၂)ဦး အဆိုပြုရမည်။ ဥက္ကဋ္ဌ တာဝန်ကို အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ ဆောင်ရွက်ရမည်။ ဥက္ကဋ္ဌကော်မတီ အတွင်းရေးမှူး တစ်ဦးဦးကို ခန့်ထားရမည်။ လိုအပ်ပါက နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် အဖွဲ့ဝင်အင်အားကို တိုးချဲ့ဖွဲ့စည်း နိုင်သည်။ ပြင်ဆင်ချက် သဘောတူ စာချုပ် (အပိုဒ် ၁၄-က)

(ဈ) ကန်ထရိုက်တာသည် ဤစာချုပ် လက်မှတ် ရေးထိုးပြီးနောက် ရက်ပေါင်း (၃၀) အတွင်း လုံခြုံမှု အာမခံစပေါ်ငွေ (Security Deposit)အဖြစ် ကျပ် ၁,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ထောင်တိတိ)ကို အမှတ်(၂) သတ္တုတွင်း လုပ်ငန်း၏ စာရင်းရှင် ငွေစာရင်း တွင် စာချုပ်သက်တမ်း တိုးမြှင့်သည့် ကာလ အထိ(သို့မဟုတ်) ကန်ထရိုက်တာမှ စာချုပ်ပါ တာဝန်ဝတ္တရားများ အားလုံး ဆောင်ရွက် ပြီးစီးသည့်အထိ စာချုပ်သက်တမ်း တစ်လျှောက် ထားရှိရမည်။ **ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် ၁၅)**

(ည) နိုင်ငံတော်သို့ ပုတ်ပြတ်စနစ်ဖြင့် ပေးသွင်းရမည့် (၈)နှစ်စာရွှေစင် (၅.၁၁၇) မက်ထရစ်တန်မှ ရွှေစင် (၂၄.၂၁၈၈) ပိဿာအား (၁၆-၉-၂၀၁၁)ရက်နေ့မှ (၃၁-၃-၂၀၁၄) ရက်နေ့အတွင်း လည်းကောင်း၊ ကျန်ပေးသွင်းရမည့် ရွှေစင် (၃၁၀၉.၄၀၆၉)ပိဿာအား (၁-၄-၂၀၁၄) ရက် နေ့မှ (၁၅-၉-၂၀၁၉) ရက်နေ့ အတွင်း လည်းကောင်း နောက်ဆက်တွဲ ဇယားပါအတိုင်း အပြည့်အဝ ပေးသွင်း ရမည်။ **ဒုတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ် (အပိုဒ် ၂)**

၁၁။ ကုမ္ပဏီအနေဖြင့် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် အခွန်ဥပဒေများအတိုင်း ပေးသွင်း ရမည့် အခွန်များကို ဒုတိယအကြိမ် ပြင်ဆင်စာချုပ်နှင့်အညီ ၂၀-၅-၂၀၁၃ မှ ၈-၁၂-၂၀၁၅ အထိ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသို့ စုစုပေါင်း ရွှေစင် ၆,၆၃၈.၅၂ ကျပ်သား အခွန်ပေး ဆောင်ထား သည့် အထောက်အထားများ၊ ၂၈-၅-၂၀၁၂ တွင် လုံခြုံမှု အာမခံစပေါ်ငွေ (Security Deposit) အဖြစ်ကျပ်သန်းတစ်ထောင်နှင့်၁၄-၁၀-၂၀၁၁တွင် လုပ်ငန်းအဆိုပြုငွေ ကျပ် သန်းတစ်ရာ့ငါးဆယ် နှင့် ၁၆-၉-၂၀၁၁မှ ၃၀-၉-၂၀၁၄ အထိ ပုံသေမြေငှားခ ကျပ် ၄၁၇.၁၂၂ သန်း တို့ကို အမှတ်(၂) သတ္တုတွင်းလုပ်ငန်းသို့ပေးသွင်းထားသော အထောက်အထားများကို တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) နောင်ပြုလုပ်မည့်(သို့)လက်ရှိမြို့ပြ စီမံကိန်းကိုထိခိုက်ခြင်း ရှိ/မရှိနှင့် ပတ် သက်၍ အဆိုပြုလျှောက်ထားမြေ (၈,၄၈၄.၅၉)ဧကတွင် ကျေးရွာမြေ၊ သာသနာ မြေ၊ သုသာန်မြေနှင့်လယ်ယာမြေ စုစုပေါင်း(၄၈၈)ဧက ပါဝင် နေပြီးအနာဂတ်စီမံကိန်းအတွက်ဝါးဖြူတောင်ကျေးရွာအုပ်စု၊ဝါးဖြူတောင် (အပေါ်) ကျေးရွာဦး လယ်မြေ ဧရိယာ (၉၈)ဧက၊ ဝါးဖြူ တောင်(အောက်) ကျေးရွာဦးလယ်မြေ ဧရိယာ (၂၂၈)ဧက၊ ဝါးဖြူတောင် ကျေးရွာအုပ်စု၊ ကျောင်းကုန်း ကျေးရွာဦးလယ်မြေဧရိယာ (၉၉)ဧက ဆင်တွင်း ကျေးရွာ အုပ်စု၊ ဘုရားကုန်းကျေးရွာဦး လယ်မြေဧရိယာ (၄၉)ဧက လိုအပ်လာမည်

ဖြစ်ပါသဖြင့် ၎င်းမြေများအား ထုတ်နုတ်ပြီးကျန်ရှိသည့် (၇,၅၂၂.၅၉) ဧက ကို လုပ်ကိုင်ဆောင်ရွက်စေမည် ဆိုပါက ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) မြို့နယ်ဒေသ အလုပ်အကိုင်၊ အခွင့်အလမ်းအဖြစ်ဒေသခံ (၇၂)ဦး အလုပ်အကိုင် ရရှိပြီး ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(၃) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှု ရှိ/မရှိနှင့် ပတ်သက်၍ သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု နည်း အောင် Work Program အတိုင်း ဆောင်ရွက်ခြင်း၊ သစ်တော သစ်ပင် များ ခုတ်ယူမှုမရှိစေရန်နှင့် သစ်ပင်များပြန်လည်စိုက်ပျိုးခြင်းများ ဆောင်ရွက်ခြင်း၊ သဘာဝပတ်ဝန်းကျင် ဆန်းစစ်လေ့လာရေး အဖွဲ့များဖြင့် ကွင်းဆင်း ဆောင်ရွက်ခြင်း၊ ပညာပေးဆိုင်းဘုတ်များ စိုက်ထူဆောင်ရွက်ခြင်း၊ ဒေသ၏ လူမှုစီးပွားဘဝ မြင့်မားအောင် လုပ်ငန်းများ ဆောင်ရွက်ပေးမှုများ ရှိသည့်အတွက် ဒေသခံများက ကျေနပ်လက်ခံမှုရှိပါကြောင်း၊

(၄) လုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/မဟုတ် နှင့်ပတ်သက်၍ အဆိုပြု လျှောက်ထားသည့်မြေ(၈,၄၈၄.၅၉)ဧက ကို သတ္တုတွင်း ဝန်ကြီးဌာနမှ (၁၆-၉-၂၀၁၁) မှ (၁၅-၉-၂၀၃၆) အထိ (၂၅)နှစ် ခွင့်ပြုပေးထားပြီး ၎င်းမြေ များထဲမှ ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေ များအဖြစ် ပါဝင်နေသည့် မြေဧရိယာ(၄၈၈)ဧကနှင့် အနာဂတ်စီမံကိန်း အတွက် ထပ်မံ လိုအပ်မည့် မြေဧရိယာ (၄၇၄)ဧက၊ စုစုပေါင်း (၉၆၂)ဧက တို့ကိုချန်လှပ်ပြီး ကျန်ရှိသည့် (၇,၅၂၂.၅၉)ဧက သည် မြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်း တို့ကြောင့် လုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပါကြောင်း စိစစ် တင်ပြလာပါသည်။

(၅) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ။

အဆိုပြုလျှောက်ထားမြေ (၈,၄၈၄.၅၉)ဧကတွင် ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေများပါဝင်သည့် မြေဧရိယာ (၄၈၈) ဧကနှင့် အနာဂတ်စီမံကိန်းအတွက် ထပ်မံလိုအပ်မည့် မြေဧရိယာ (၄၇၄) ဧက၊ စုစုပေါင်း (၉၆၂)ဧက တို့ကို ချန်လှပ်ပြီး ကျန်ရှိသည့် (၇,၅၂၂.၅၉)ဧက ကိုသာ လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

(၁) ဖော်ပြပါ စီမံကိန်း ဆောင်ရွက်မည့် နေရာများသည် သစ်တော ဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် သစ်တောစိုက်ခင်း၊ သစ်တောကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တောနှင့် သဘာဝ နယ်မြေအတွင်း ကျရောက်ပါက အသုံးပြုမြေဧရိယာနှင့် စပ်လျဉ်း၍သစ်တောဦးစီးဌာန၏ သဘောထား ရယူဆောင်ရွက်ရန်၊

(၂) တူးဖော်ရေး လုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်း ဆောင်ရွက်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းရေးဆွဲပြီး လိုက်နာ ဆောင်ရွက်ရန်၊

(၃) သတ္တုတူးဖော်ရေး ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ္တုတွင်း ဥပဒေ၊ မြန်မာ့ သတ္တုတွင်း နည်းဥပဒေတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(၄) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေ ရေးတို့အတွက် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း (Environmental and Social Impact Assessment - ESIA) ဆောင်ရွက်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုများအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများအပေါ် ပေးလျော်မှု ( Payment for Environmental Services - PSE) အစီအစဉ်များ ထည့်သွင်း ဆောင်ရွက်ရန်၊

(၅) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ သတ္တုတွင်း ပိတ်သိမ်းမည့် အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက် မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၆) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ ESIAနှင့် EMP တို့တွင်ဖော်ပြပါရှိသည့် အချက်များအား လိုက်နာ

မည်ဖြစ်ကြောင်းနှင့် စီမံကိန်း အဆိုပြုသူ၏ ကတိခံဝန်ချက်ကို ESIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(၇) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် စီမံကိန်းဧရိယာအနီး ဒေသခံများ၏ ဆန္ဒ နှင့် သဘောထားများ ရယူရန်၊

(၈) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ သက်ဆိုင်ရာ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၉) ကုမ္ပဏီမှတင်ပြထားသည့် စီမံကိန်းဆိုင်ရာပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာအား ပတ်ဝန်းကျင် ထိန်းသိမ်းရေး နည်းဥပဒေ အပိုဒ် ၆၀ အရ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ စိစစ်သုံးသပ်ရေးအဖွဲ့သို့ တင်ပြကာလုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်သုံးသပ်သွားမည် ဖြစ်ပါကြောင်း ပြန်ကြားလာပါ သည်။

**ကုမ္ပဏီမှ သဘာဝ ပတ်ဝန်းကျင်နှင့် လူနေမှုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်များ (Environmental and Social Impact Assessment - ESIA)၊ ဒေသခံဝန်ထမ်းများခန့်ထား ဆောင်ရွက်မှုအခြေအနေ၊ ဒေသခံများက လုပ်ကွက်(B) ရွှေမိုးယံ ကုမ္ပဏီအား ထောက်ခံမှုအခြေအနေ၊ သဘာဝ ပတ်ဝန်းကျင်နှင့် သစ်တောထိန်းသိမ်းရေး ဌာနဖွဲ့စည်းထားရှိမှု အခြေအနေ၊ ပြည်သူ့အကျိုးပြုနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးလုပ်ငန်း ဆောင်ရွက်ထားရှိမှု အစီရင်ခံစာ၊ သဘောဝပတ်ဝန်းကျင်နှင့် သစ်တော ထိန်းသိမ်းရေး လုပ်ငန်းဆောင်ရွက်ထားရှိမှု အစီရင်ခံစာများအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြပြီး ဖြစ်ပါသည်။**

၁၃။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် KBZ (ကမာရွက်ဘဏ်ခွဲ) ၌ (၂၆-၈-၂၀၁၅) နေ့စွဲဖြင့် လက်ကျန်ငွေ ကျပ် ၂၄၀,၀၂၀,၀၀၀ နှင့် MFTBတွင် (၂၅-၈-၂၀၁၅) ရက်စွဲဖြင့် US$ ၂၈၂,၇၈၉.၉၈ ရှိကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း ဝန်ခံချက်၊ မီးဘေးကာကွယ်မှု အစီအမံများ၊ အလုပ်သမားဘေးအန္တရာယ် ကင်းရှင်းရေးစီမံချက်၊ ဝန်ထမ်းများ၏ လုပ်ခမှ လစာဝင်ငွေခွန် ထမ်းဆောင်မည် ဖြစ်ကြောင်း ဝန်ခံချက်၊ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် ဆောင်ရွက်ထားရှိမှု အစီအစဉ်၊ စက်ရုံဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှု တို့ကို တင်ပြထားပါသည်။

၁၅။ စိစစ်တင်ပြချက်

(က) သတ္တုတွင်းဝန်ကြီးဌာနမှ ရွှေမိုးယံ ကုမ္ပဏီ လီမိတက် (Shwe Moe Yan Company Limited)အား မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ မိုးထိ မိုးမိဒေသ၊ ဝါးဖြူတောင် ရွှေလုပ်ကွက်လုပ်ကွက်(B) ဧရိယာ ၈,၄၈၄.၁၉ ဧက (၃၄.၃၄ စတုရန်း ကီလိုမီတာ)တွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြခြင်း အတွက် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ သဘောထား မှတ်ချက် တောင်း ခံခဲ့ပါသည်။ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေများ ပါဝင်သည့် မြေဧရိယာ (၄၈၈) ဧကနှင့် အနာ ဂတ်၏ စီမံကိန်းအတွက် ထပ်မံ လိုအပ် မည့် မြေဧရိယာ (၄၇၄) ဧက၊ စုစုပေါင်း (၉၆၂)ဧက တို့ကို ချန်လှပ်ပြီး ကျန်ရှိသည့် (၇,၅၂၂.၁၉)ဧကကိုသာ လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူပါကြောင်းပြန်ကြားခဲ့ရာ သတ္တုတွင်းဝန်ကြီး ဌာနနှင့် ကုမ္ပဏီသို့ အကြောင်းကြားပြီးဖြစ်ပါသည်။ ကုမ္ပဏီမှ မန္တလေးတိုင်း ဒေသကြီး အစိုးရအဖွဲ့၏ သဘောထား ပြန်ကြားချက်နှင့်အညီ မူလတင်ပြခဲ့ သည့် ဧရိယာ ၈,၄၈၄.၁၉ ဧက (၃၄.၃၄ စတုရန်း ကီလိုမီတာ) မှ (၉၆၂)ဧက ကို ချန်လှပ်ပြီး ကျန်ရှိသည့် (၇,၅၂၂.၁၉) ဧက တွင်သာ လုပ်ငန်း လုပ်ကိုင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံ ကုမ္ပဏီ လီမိတက် (Shwe Moe Yan Company Limited) တို့သည် မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့၏ သဘောထား ပြန်ကြားချက်နှင့်အညီ လုပ်ကွက် ဧရိယာ ပြင်ဆင်သည့် (Production Sharing Contract - PSC) စာချုပ် ချုပ်ဆိုပြီး ပါက မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ ရမည်ဖြစ်ပါသည်။

(ဂ) သတ္တုတွင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ၂၀၁၅ ခုနှစ် ဇန်နဝါရီလ၁ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ အစည်းအဝေးမှ "အမျိုးသားကြီးပွား တိုးတက်ရေးရွှေတူးဖော်ထုတ်လုပ်မှုအုပ်စုလီမိတက်၊ ရွှေမိုးယံကုမ္ပဏီလီမိတက်၊ အာရှကမ္ဘာမြေ စက်မှုလုပ်ငန်းနှင့် သတ္တုတူးဖော်ရေး လုပ်ငန်းလီမိတက်တို့မှ ပထမအကြိမ်ပြင်ဆင်ချုပ်ဆိုသည့် စာချုပ်ပါ ပေးသွင်း ရမည့် ရွှေစင်ပမာဏနှင့် ပေးသွင်းရန်ကာလ ပြောင်းလဲမှုမရှိ ဘဲ လစဉ်ပေးသွင်းရမည့် လျာထားချက်အား ထပ်မံပြင်ဆင်သည့် စာချုပ်တို့အားချုပ် ဆိုပြီးစီးမှုများကို မှတ်တမ်းတင်ရန် တင်ပြခြင်းကို သဘောတူကြောင်း" ဆုံးဖြတ်ချက်အား ပူးတွဲတင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာ စာအမှတ် ၅၀/၂၀၁၄ အရ ဓာတ်သတ္တု တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းသည် ပတ်ဝန်းကျင် ထိခိုက်မှု

ဆန်းစစ်ချက် ရယူရန် လိုအပ်သည့် စီးပွားရေးလုပ်ငန်း အမျိုးအစား စာရင်းတွင် ပါဝင်ကြောင်း စိစစ် ရပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၅၀/၂၀၁၄ အရ သဘာဝ အရင်းအမြစ် တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းများမှာ အကောက်ခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်ပေးရန် မလိုသော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများတွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့် (၅) နှစ်သာ ရရှိနိုင်မည် ဖြစ်ကြောင်း စိစစ်ရပါသည်။

(စ) သို့ဖြစ်ပါ၍ ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံး စက်ပစ္စည်း ကိရိယာများအား အခွန်အကောက် ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။

(ဆ) ပုတ်ပြတ်စနစ် (၈)နှစ်မှာ(၁၆-၉-၂၀၁၁)ရက်နေ့မှ(၁၅-၉-၂၀၁၉) ရက်နေ့အထိဖြစ်ပြီး၊ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်(၁၇)နှစ်မှာ (၁၆-၉-၂၀၁၉)ရက်နေ့မှ (၁၅-၉-၂၀၃၆) ရက်နေ့ အထိဖြစ်ကြောင်း သတ္တုတွင်း ဝန်ကြီးဌာနမှ ထုတ်ပေးထားသည့် ဓာတ်သတ္တု အကြီးစားထုတ်လုပ်ရန် ခွင့်ပြုမိန့်တွင် ဖော်ပြပါရှိသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြသည့်ကာလသည်ပုတ်ပြတ်စနစ်ဖြင့်လုပ်ငန်းဆောင်ရွက်နေသည့်ကာလဖြစ်ပါသည်။

(ဇ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အမျိုးသားကြီးပွား တိုးတက်ရေး ရွှေတူးဖော်ထုတ်လုပ်မှုအုပ်စု လီမိတက်အား ပုတ်ပြတ်စနစ်အပါအဝင် ထုတ်လုပ်မှုအပေါ်ခွဲ ဝေခံစားသည့်စနစ်ဖြင့် ရွှေစင်သတ္တုများရှာဖွေတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုမိန့်အမှတ် ၁၀၈၃/၂၀၁၅(၅-၉-၂၀၁၅)ဖြင့် ခွင့်ပြုမိန့် ပေးခဲ့ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံ ကုမ္ပဏီလီမိတက် (Shwe Moe Yan Company Limited)တို့သည် မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိ ဒေသ၊ ဝါးဖြူတောင်ရွှေလုပ်ကွက် လုပ်ကွက်(B)ဧရိယာ ၇,၅၂၂.၅၉ ဧက တွင် ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ရွှေစင်သတ္တုများ ရှာဖွေ တူးဖော်

ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆( ၃၄၅ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားပြန်ကြားခြင်း
ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၇ . ၁၀ . ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၅ (သ) / ၀၀၇ / ၂၀၁၅ (၃၃၄)

၁။ ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိဒေသ၊ ဝါးဖြူတောင် ရွှေလုပ်ကွက် လုပ်ကွက်(B)၊ ဧရိယာ ၈၄၈၄.၅၉ ဧက(၃၄.၃၄စတုရန်းကီလိုမီတာ)ကို ငှားရမ်းပြီး ရွှေစင်သတ္တုများ ရှာဖွေ တူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကို သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံကုမ္ပဏီ လီမိတက် (Shwe Moe Yan Company Limited)တို့ပူးပေါင်း၍ ဖုတ်ပြတ်စနစ်အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဖြစ်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားကို ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လျှောက်ထားမြေနေရာနှင့်ပတ်သက်၍ စိစစ်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ နှင့် ပတ်သက်၍ အဆိုပြု လျှောက်ထားမြေ (၈၄၈၄.၅၉)ဧကတွင် ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေ စုစုပေါင်း(၄၈၈)ဧကပါဝင်နေပြီး အနာဂတ် စီမံကိန်းအတွက် ဝါးဖြူတောင်ကျေးရွာအုပ်စု၊ ဝါးဖြူတောင်(အပေါ်)ကျေးရွာ၌ လယ်မြေဧရိယာ(၉၈)ဧက၊ ဝါးဖြူတောင်(အောက်)ကျေးရွာ၌ လယ်မြေဧရိယာ (၂၂၈)ဧက၊ ဝါးဖြူတောင်ကျေးရွာအုပ်စု၊ကျောင်းကုန်း ကျေးရွာ၌ လယ်မြေဧရိယာ(၉၉)ဧက၊ ဆင်တွင်းကျေးရွာအုပ်စု၊ ဘုရားကုန်းကျေးရွာ၌ လယ်မြေဧရိယာ (၄၉)ဧက လိုအပ်လာမည်ဖြစ်ပါသဖြင့် ၎င်းမြေများအား ထုတ်နုတ်ပြီး ကျန်ရှိသည့် (၇၅၂၂.၅၉)ဧကကို လုပ်ကိုင်ဆောင်ရွက်စေမည် ဆိုပါက ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းအဖြစ် ဒေသခံ(၇၂)ဦး အလုပ်အကိုင်ရရှိပြီး ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည် ၊

(ဂ) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်မှု ရှိ/ မရှိ နှင့်ပတ်သက်၍ သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှု နည်းအောင် Work Program အတိုင်း ဆောင်ရွက်ခြင်း၊ သစ်တောသစ်ပင်များ ခုတ်ယူမှု မရှိစေရန်နှင့် သစ်ပင်များ ပြန်လည်စိုက်ပျိုးခြင်းများ ဆောင်ရွက်ခြင်း၊ သဘာဝပတ်ဝန်းကျင် ဆန်းစစ်လေ့လာရေးအဖွဲ့များဖြင့် ကွင်းဆင်းဆောင်ရွက်ခြင်း၊ပညာပေး

ဆိုင်းဘုတ်များ စိုက်ထူဆောင်ရွက်ခြင်း၊ ဒေသ၏ လူမှု စီးပွား ဘဝ မြင့်မားအောင် လုပ်ငန်းများဆောင်ရွက်ပေးမှုများရှိသည့်အတွက် ဒေသခံများက ကျေနပ် လက်ခံမှု ရှိပါကြောင်း ၊

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/ မဟုတ် နှင့်ပတ်သက်၍ အဆိုပြု လျှောက်ထားသည့်မြေ(၈၄၈၄.၅၉)ဧကကို သတ္တုတွင်းဝန်ကြီးဌာနမှ (၁၆.၉.၂၀၁၁) မှ (၁၅.၉.၂၀၃၆)အထိ (၂၅)နှစ် ခွင့်ပြုပေးထားပြီး ၎င်းမြေများထဲမှ ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေများအဖြစ် ပါဝင်နေသည့် မြေဧရိယာ (၄၈၈) ဧကနှင့် အနာဂတ် စီမံကိန်းအတွက် ထပ်မံလိုအပ်မည့် မြေဧရိယာ (၄၇၄) ဧက စုစုပေါင်း (၉၆၂)ဧကတို့ကို ချန်လှပ်ပြီး ကျန်ရှိသည့် (၇၅၂၂.၅၉)ဧကသည် မြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်မှုရှိခြင်းတို့ကြောင့် လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ ။

၃။ သို့ဖြစ်ပါ၍ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေမိုးယံကုမ္ပဏီ လီမိတက် (Shwe Moe Yan Company Limited)တို့ ပူးပေါင်း၍ ရမည်းသင်းမြို့နယ်၊ မိုးထိမိုးမိ ဒေသ၊ ဝါးဖြူတောင်ရွှေလုပ်ကွက် လုပ်ကွက်(B)၊ ဧရိယာ(၈၄၈၄.၅၉)ဧကကို ဌားရမ်းပြီး ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ရွှေစင်သတ္တုများ ရှာဖွေတူးဖော် ထုတ်လုပ်ခြင်း၊ လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်ကိစ္စနှင့် ပတ်သက်ပြီး (၃.၁၂.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၄၁/၂၀၁၅) ဆုံးဖြတ်ချက် အပိုဒ်(၈၅)အရ ကျေးရွာမြေ၊ သာသနာမြေ၊ သုသာန်မြေနှင့် လယ်ယာမြေများပါဝင်သည့် မြေဧရိယာ(၄၈၈)ဧကနှင့် အနာဂတ် စီမံကိန်းအတွက် ထပ်မံလိုအပ်မည့် မြေဧရိယာ(၄၇၄)ဧက စုစုပေါင်း (၉၆၂)ဧကတို့ကို ချန်လှပ်ပြီး ကျန်ရှိသည့် (၇၅၂၂.၅၉)ဧကကိုသာ လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် သဘောတူပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လျှည့်လည်စာတွဲ ၊

ရုံးလက်ခံ ။

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၇၉၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊အောက်တိုဘာလ ၁၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ (၁) သတ္တုတွင်းဝန်ကြီးဌာန၏ ၂၁-၉-၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ၃၀ ခွဲ (၁) ၁၅ (၁၀၀၇၈)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁ - ၁၀ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက- ၅(သ)/၀၀၇/၂၀၁၅(၃၃၀)

၁။ သတ္တုတွင်းဝန်ကြီးဌာန ၊ အမှတ် (၂) သတ္တုတွင်းလုပ်ငန်း နှင့် ရွှေမိုးယံကုမ္ပဏီလီမိတက် ( Shwe Moe Yan Company Limited ) တို့သည် မန္တလေးတိုင်းဒေသကြီး ၊ ရမည်းသင်းမြို့နယ် ၊ မိုးထိမိုးမိဒေသ ၊ ဝါးဖြူတောင်ရွှေလုပ်ကွက် လုပ်ကွက်( B ) ဧရိယာ( ၈၄၈၄.၅၉ )ဧက (၃၄.၃၄ စတုရန်းကီလိုမီတာ)တွင် ပုတ်ပြတ်စနစ် အပါအဝင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ရွှေသတ္တုရှာဖွေတူးဖော်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သတ္တုတွင်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့သည့် စာအား စိစစ်ရာတွင် ကုမ္ပဏီ၏တင်ပြချက်အရ သတ္တုတွင်းဝန်ကြီးဌာန နှင့် ရွှေမိုးယံကုမ္ပဏီတို့ (၁၆-၉-၂၀၁၁)ရက်စွဲဖြင့် မူလချုပ်ဆိုထားသည့် ရွှေစင်သတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်းသဘောတူစာချုပ်၌ ဖော်ပြထားသည့် ထူထောင်မှုကာလကို တိုးမြှင့်စေပြီး မူလအဆိုပြု ရွှေစင်ပမာဏ (၅.၁၁၇) မက်ထရစ်တန်အတွက် (၃-၁-၂၀၁၁) ရက်နေ့မှ (၂-၁၂-၂၀၁၉) ရက်နေ့ အထိ (၈) နှစ် သက်တမ်းအား ပုတ်ပြတ်စနစ်ဖြင့်လည်းကောင်း ကျန် (၁၇) နှစ်အား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့်လည်းကောင်း စုစုပေါင်း(၂၅) နှစ်ဖြင့် သက်တမ်းတိုးမြှင့်ပေးရေးအား ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြ၍ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ခွင့်ပြုချက်ဖြင့် ပြင်ဆင်ချုပ်ဆိုခဲ့ပြီး ဆောင်ရွက်ပြီးစီးမှုအား ( ၁ - ၁ - ၂၀၁၅ ) ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏(၁/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ မှတ်တမ်းတင်ပြခဲ့ကြောင်း နှင့် သတ္တုတွင်းဝန်ကြီးဌာန၏ ၂၆ - ၁၁ - ၂၀၁၃ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ၊ ၁၁၅၂ / ၂၀၁၁ ဖြင့် ဓာတ်သတ္တုအကြီးစားထုတ်လုပ်ရန်ခွင့်ပြုမိန့်တို့ကို ပူးတွဲဖော်ပြထားကြောင်းစိစစ်တွေ့ရှိရပါသည်။ သို့ရာတွင် ဆိုင်ယာနိုက် (Cyanide) သုံးစွဲခွင့်ပြုမိန့်နှင့် ထုတ်လုပ်မည့်မြေဧရိယာနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏ သဘောထားမှတ်ချက်များ ရယူထားမှုမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ရွှေတူးဖော်ထုတ်လုပ်ရာတွင် ဆိုင်ယာနိုက် ( Cyanide ) ၊ အမိုနီယမ်ဘိုင်ကာဗွန်နိတ် (Ammonium Bicarbonate)၊ အမိုနီယမ်ကလိုရိုက်(Ammonium Chloride) တို့ကိုအသုံးပြုမည်ဖြစ်ပါသည်။ Cyanide သည် မီးလောင်လွယ်ပြီး အခဲ၊အရည်၊အငွေ့အခြေအနေအားလုံးတွင် အဆိပ်သင့်စေပါသည်။ Sodium Cyanide (NaCN) သည် အစာအိမ်ထဲ ရောက်ရှိပါက အစာကြေအက်စစ်နှင့် ထိတွေ့၍ HCN(Hydrogen Cyanide) ဖြစ်ပြီး ပြင်းထန်သောအဆိပ် ဖြစ်ကာ လျင်မြန်စွာ သေဆုံးစေနိုင်ပါသည်။ ထို့ပြင် Cyanide ပါဝင်သော စွန့်ပစ်မြေ(tailing) များသည် ပတ်ဝန်းကျင်ရှိ မြေထု၊ရေထုထဲသို့ရောက်ရှိပါက ပတ်ဝန်းကျင်ရှိ နေထိုင်သူများနှင့်ရေနေသတ္တဝါများအား ဆိုးရွားစွာထိခိုက်စေနိုင်ပါသည်။ Cyanide အား စနစ်တကျကိုင်တွယ် အသုံးပြုခြင်း မရှိပါက ပတ်ဝန်းကျင်ဧရိယာအနီးရှိ မြေအောက်ရေညစ်ညမ်းမှုဖြစ်ပေါ်နိုင်ပြီး အနီး ပတ်ဝန်းကျင်ရှိ မြစ် ၊ ချောင်း ၊ အင်းအိုင်များကိုလည်း သက်ရောက်မှုရှိနိုင်ပါသည်။ ထို့အပြင် ရွှေသတ္တုတူးဖော်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြေတူးစက်များ၊ မီးစက်များ၊ လွန်တူးစက်များ အသုံးပြုခြင်း၊ မိုင်းမြို့တည်ဆောက်ခြင်း၊ မြေတူးခြင်း၊ မိုင်းခွဲခြင်းစသည့် လုပ်ငန်းများကြောင့် အသံဆူညံမှုများဖြစ်ပေါ်ခြင်း ၊ ဂေဟစနစ်များပျက်စီးခြင်း ၊ အဆိုပါနေရာအနီးရှိ ဇီဝမျိုးစုံမျိုးကွဲများ ဆုံးရှုံးနိုင်ခြင်း၊ စက်သုံးဆီ နှင့် စွန့်ပစ်ပစ္စည်းများကြောင့်လည်း ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ ရွှေသတ္တုတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ဖော်ပြပါ စီမံကိန်းဆောင်ရွက်မည့် နေရာများသည် သစ်တောဦးစီးဌာနမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် သစ်တောစိုက်ခင်း ၊ သစ်တောကြိုးဝိုင်း ၊ ကြိုးပြင်ကာကွယ်တော နှင့် သဘာဝနယ်မြေအတွင်း ကျရောက်ပါက အသုံးပြုမြေဧရိယာ နှင့် စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏သဘောထား ရယူဆောင်ရွက်ရန်၊

(ခ) တူးဖော်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်း ရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(ဂ) သတ္တုတူးဖော်ရေး ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ္တုတွင်းဥပဒေ၊ မြန်မာ့သတ္တုတွင်းနည်းဥပဒေတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း(Environmental and Social Impact Assessment - ESIA) ဆောင်ရွက်ရန် နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ဝန်ဆောင်မှု

လုပ်ငန်း များအပေါ် ပေးလျော်မှု (Payment for Environmental Services – PES) အစီအစဉ်များ ထည့်သွင်းဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ သတ္တုတွင်းပိတ်သိမ်းမည့် အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ ESIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအားလိုက်နာမည် ဖြစ်ကြောင်း နှင့် စီမံကိန်းအဆိုပြုသူ၏ ကတိခံဝန်ချက်ကို ESIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် စီမံကိန်းဧရိယာအနီး ဒေသခံများ၏ ဆန္ဒ နှင့် သဘောထားများရယူရန်၊

(စ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ သက်ဆိုင်ရာ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

၆။ စီမံကိန်း အဆိုပြုလွှာ နှင့် အတူ ရည်ညွှန်း(၂)ပါစာဖြင့် ပူးတွဲတင်ပြလာသည့် စီမံကိန်းဆိုင်ရာ ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာအား ပတ်ဝန်းကျင် ထိန်းသိမ်းရေး နည်းဥပဒေ အပိုဒ် ၆၃ အရ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာစိစစ်သုံးသပ်ရေးအဖွဲ့ သို့တင်ပြကာ လုပ်ထုံးလုပ်နည်းများ နှင့် အညီ စိစစ်သုံးသပ်သွားမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သတ္တုတွင်းဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\DHHM\October - CD\Shwe Moe Yan Company Limited.doc3*